ကန့်သတ်

ကုမ္ပဏီအမည် - မဟာနဒီရေကြောင်း ဝန်ဆောင်မှု ကုမ္ပဏီလီမိတက်

လုပ်ငန်း - သစ်ခွဲသားနှင့် ကြိမ်းခင်းပစ္စည်းအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၃-၆-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၀-၆-၂၀၁၅ | ၂၅-၆-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၀-၆-၂၀၁၅ | ၂၉-၆-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၁၀-၆-၂၀၁၅ | ၂၅-၆-၂၀၁၅ | |
| ၃ | PAT အစည်းအဝေးသို့တင်ပြခြင်း (၁၉/၂၀၁၅) | ၈-၆-၂၀၁၅ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၉-၆-၂၀၁၅ | | |
| ၅ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၁၆-၆-၂၀၁၅ | | |
| ၇ | ကုမ္ပဏီမှ အဆိုပြုချက် ပြန်လည်ပြင်ဆင် တင်ပြလာခြင်း | ၂၃-၇-၂၀၁၅ | | |
| ၈ | ကုမ္ပဏီမှ အဆိုပြုချက် (၁၀)စုံ ပေးပို့ခြင်း | ၂၃-၇-၂၀၁၅ | | |
| ၉ | ကော်မရှင်အစည်းအဝေးသို့တင်ပြရန် ပြုစုခြင်း | ၂၄-၇-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၅၂ ရက် | | |

ကန့်သတ်

| | |
|---|---|
| ကုမ္ပဏီအမည် | Maha Nadi Maritime Services Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | သစ်ခွဲသားနှင့် ကြမ်းခင်းပစ္စည်းအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | မြေကွက်အမှတ်-၈၃၊ ဦးဖိုးလှိုင်လမ်း၊ စက်မှုဇုန်(၂)၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁,၆၃၈.၉၇ သန်း |
| ရောင်းချမည့်စနစ် | ပျဉ်းကတိုး၊ ကျွန်း၊ သစ်ယာ/အင်ကြင်းသစ်ခွဲသားများ ၂၀% ပြည်တွင်းရောင်း<br>ပျဉ်းကတိုး၊ ကျွန်း၊ သစ်ယာ/အင်ကြင်းသစ်ခွဲသားများ ၈၀% ပြည်ပတင်ပို့<br>ကြမ်းခင်း(ပါကေး၊ လျှာထိုး၊ စကာတင်၊ ဘီတင်) ၁၀၀% ပြည်တွင်းရောင်း |
| လုပ်ငန်းသက်တမ်း | ကနဦး ၁၀ နှစ် |
| အရင်းကြေကာလ | ၄ နှစ် နှင့် ၄ လ |
| IRR | ၁၉.၁၂% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂.၄၂ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၁၂၂၇.၀၇ |
| ၅ | ဝင်ငွေခွန် | ၄၅၃.၉၄ | ၄၇၅.၅၅ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၃၄၆.၅၀ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ် ထက်ကျော်ပါ အခွန် ပေးရမည့် ဝန်ထမ်း(၁၃)ဦး |
| ၈ | CSR ( ၂ %) | | ၃၆.၃၂ |
| ၉ | မြေငှားရမ်းခရငွေ | | ၈၅.၇၆ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၆၂ ဦး<br>ပြည်တွင်းလုပ်သား ၆၂ ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ |
| | | ၄၅၈.၅၂ | ၂၁၇၂.၇၇ |
| | Cost & Benefit | ၁:၄ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် မဟာနဒီရေကြောင်း ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Maha Nadi Maritime Services Company Limited) မှ သစ်ခွဲသားနှင့် ကြမ်းခင်းပစ္စည်းအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - မဟာနဒီရေကြောင်း ဝန်ဆောင်မှု ကုမ္ပဏီ လီမိတက် (Maha Nadi Maritime Services Company Limited) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးကျော်သက်လွင် (အဘ-ဦးမင်းလွင်) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - သစ်ခွဲသားနှင့် ကြမ်းခင်းပစ္စည်းအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ်- ၈၃၊ ဦးဖိုးလှိုင်လမ်း၊ စက်မှုဇုန်(၂)၊ ဒဂုံမြို့သစ် (ဆိပ်ကမ်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | မြေအကျယ်အဝန်း | - ၁.၇၃၁ ဧက (၇၀၀၅.၁၁၄၇ စတုရန်းမီတာ) |
| | လုပ်ငန်းသက်တမ်း | - ကနဦး ၁၀နှစ်(သက်တမ်းတိုး ၅နှစ် ၂ကြိမ်) |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| | ပဏာမစူးစမ်းမှုကာလ | - ၆ လ |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁,၆၃၈.၉၇ သန်း(အမေရိကန်ဒေါ်လာ ၀.၅၆၆ သန်း အပါအဝင်) |

| | | | ကျပ် (သန်းပေါင်း) |
|---|---|---|---|
| | ပြည်တွင်း (ကျပ်သန်းပေါင်း) | ပြည်ပ (US$သန်းပေါင်း) | စုစုပေါင်း (ကျပ်သန်းပေါင်း) |
| - ငွေပမာဏ | ၅၀၀.၀၀၀ | ၀.၅၀၀ | ၁၀၂၅.၀၀၀ |
| - စက်ပစ္စည်း(ပြည်တွင်းဝယ်) | | ၀.၀၄၃ | ၄၅.၄၄၀ |
| - စက်ပစ္စည်း(ပြည်ပဝယ်) | | ၀.၀၂၃ | ၂၄.၅၄၅ |
| - အဆောက်အအုံ | ၂၈၈.၇၅၀ | | ၂၈၈.၇၅၀ |
| - ရုံးလုပ်ငန်းသုံး ပစ္စည်းများ | ၁၆.၈၈၅ | | ၁၆.၈၈၅ |
| - မော်တော်ယာဉ်(ပြည်တွင်းဝယ်) | ၂၃၈.၃၅၀ | | ၂၃၈.၃၅၀ |
| - စုစုပေါင်း | ၁၀၄၃.၉၈၅ | ၀.၅၆၆ | ၁၆၃၈.၉၇ |

| | | | | | |
|---|---|---|---|---|---|
| ၇။ | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်ခြောက် (ပြည်တွင်းရောင်း) | **စဉ်** | **ပစ္စည်း အမျိုးအစား** | **ထုတ်လုပ်မှု အရေအတွက်** (Hoppus Ton) | **ရောင်းဈေးနှုန်း** (ကျပ်/ (Hoppus Ton) |
| | | (က) | **ပျဉ်းကတိုး(၂၀%)** | | |
| | | | သစ်ခွဲသား | ၈၀၇ | ၁,၁၀၀,၀၀၀ |
| | | (ခ) | **ကျွန်းသစ်(၂၀%)** | | |
| | | | သစ်ခွဲသား | ၂၁၅ | ၁,၇၀၀,၀၀၀ |
| | | (ဂ) | **သစ်ယာ/အင်ကြင်း(၂၀%)** | | |
| | | | သစ်ခွဲသား | ၁၇၉ | ၈၀၀,၀၀၀ |
| | | (ဃ) | **ကြမ်းခင်း(၁၀၀%)** | | |
| | | | (ပါကေး၊ လျှာထိုး၊ စကာတင်၊ ဘီတင်) | ၆၀ | ၁,၅၀၀,၀၀၀ |
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်ခြောက် (ပြည်ပတင်ပို့) | **စဉ်** | **ပစ္စည်း အမျိုးအစား** | **ထုတ်လုပ်မှု အရေအတွက်** (Hoppus Ton) | **ရောင်းဈေးနှုန်း** (US$/ (Hoppus Ton) |
| | | (က) | **ပျဉ်းကတိုး(၈၀%)** | | |
| | | | သစ်ခွဲသား | ၃,၂၂၇ | ၁,၃၀၀ |
| | | (ခ) | **ကျွန်းသစ်(၈၀%)** | | |
| | | | သစ်ခွဲသား | ၈၆၁ | ၂,၂၀၀ |
| | | (ဂ) | **သစ်ယာ/အင်ကြင်း(၈၀%)** | | |
| | | | သစ်ခွဲသား | ၇၁၇ | ၁,၃၀၀ |
| ၈။ | ရောင်းချမည့် နည်းစနစ် | - ပျဉ်းကတိုး၊ ကျွန်း၊ သစ်ယာ/အင်ကြင်း သစ်ခွဲသားများ ၂၀% ပြည်တွင်းရောင်း<br>- ပျဉ်းကတိုး၊ ကျွန်း၊ သစ်ယာ/အင်ကြင်း သစ်ခွဲသားများ ၈၀% ပြည်ပတင်ပို့<br>- ကြမ်းခင်း(ပါကေး၊လျှာထိုး၊စကာတင်၊ဘီတင်) ၁၀၀% ပြည်တွင်းရောင်း | | | |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆)နှစ်ခြောက် | | | | |
| | ဝင်ငွေ | - ကျပ် ၈,၅၀၈.၁၃၅ သန်း | | | |
| | အသုံးစရိတ် | - ကျပ် ၈,၁၅၁.၄၇၂ သန်း | | | |
| | အသားတင်အမြတ် | - ကျပ် ၃၅၆.၆၆၃ သန်း | | | |

| | | |
|---|---|---|
| ၁၀။ | ဝန်ထမ်းအင်အား | - ၆၂ ဦး (ပြည်တွင်း) (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၄၀၀,၀၀၀ဖြစ်ပါသည်။)<br>- ၈ ဦး (ပြည်ပ) (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၃၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၁,၅၀၀ ဖြစ်ပါသည်။) |
| ၁၁။ | အရင်းကြေကာလ | - ၄ နှစ် နှင့် ၄ လ |
| ၁၂။ | အရင်းအနှီးပေါ်အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၉.၁၂% |
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့် အကျိုး အမြတ် (၆)နှစ်မြောက် | |
| | ဝင်ငွေခွန် | - ကျပ် ၁၁၈.၈၉ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန်(သစ်ခွဲသား) | - ကျပ် ၃၄၉.၁၉ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန်(ကြမ်းခင်း) | - ကျပ် ၄.၅ သန်း |
| ၁၄။ | CSR | - အသားတင်အမြတ်ငွေ၏ ၂% |
| ၁၅။ | မီးဘေးအန္တရာယ် ကြိုတင် ကာကွယ်မှု အစီအစဉ် | - ရေလှောင် ကန်ထားရှိခြင်း၊ မီးသတ်ပိုက်များ အမြဲကောင်းမွန်နေစေခြင်း၊ မီးဘေးကြိုတင်အချက်ပေးစနစ်များ တပ်ဆင်ထားရှိခြင်း၊ အဆောက်အဦး ပတ်ဝန်းကျင်တွင် သစ်ရွက်ခြောက်များ မရှိစေခြင်း၊ လုပ်ငန်းသုံးစက်ဆီ၊ ချောဆီများ စနစ်တကျ ထိန်းသိမ်းထားရှိခြင်း၊ မီးခလုတ်များ မလိုအပ်သည့် အချိန်တွင် သေချာစွာ ပိတ်ထားစေခြင်း၊ မီးသတ်ဦးစီးဌာနမှ ပို့ချသည့် မီးသတ်သင်တန်းများသို့လည်း ဝန်ထမ်းများအား တက်ရောက်နိုင်ရန် အတွက် ဆောင်ရွက်ထားရှိမည် ဖြစ်ပါသည်။ |
| ၁၆။ | အခြားတင်ပြချက် | - မြန်မာနိုင်ငံ၊ ကမ္ဘောဇဘဏ်လီမိတက်(ဗဟန်းဘဏ်ခွဲ)တွင် မဟာနဒီရေကြောင်းဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်အမည်ဖြင့် ၁၈-၅-၂၀၁၅ နေ့ရှိ ငွေစာရင်းလက်ကျန် ကျပ် ၁၀,၀၀၀,၀၀၀ ရှိကြောင်း ငွေကြေးအထောက် အထား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - မြေပိုင်ရှင် ဦးမိုးလှိုင်+ဒေါ်မိမိခင် အမည်ပေါက် စက်မှုမြေဂရန်နှင့် တည်နေရာပြမြေပုံကို ဖော်ပြထား ရှိပါသည်။<br>- မြေပိုင်ရှင် ဦးမိုးလှိုင်+ဒေါ်မိမိခင်နှင့် မဟာနဒီရေကြောင်းဝန်ဆောင်မှု ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသော မြေနှင့် အဆောက်အအုံ ငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)ကို တင်ပြထားပါသည်။<br>- တည်ဆောက်မည့် စက်ရုံ၏ Layout Plan များကို တင်ပြထားပါသည်။<br>- မဟာနဒီရေကြောင်းဝန်ဆောင်မှု ကုမ္ပဏီလီမိတက်၏ ကုမ္ပဏီ မှတ်ပုံတင် လက်မှတ်၊ ပုံစံ - ၆၊ ၂၆၊ MOA, AOA (မိတ္တူ) များအား တင်ပြထားပါသည်။<br>- ရင်းနှီးမြှုပ်နှံသူနှင့် ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူ များကို တင်ပြထားပါသည်။<br>- လုပ်ငန်းခွင် သာယာရေး၊ ဝန်ထမ်းသက်သာ ချောင်ချိရေး၊ မီးဘေးလုံခြုံရေး စီမံချက်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်၊ ပုဂ္ဂလိကသစ်တောစိုက်ခင်းတည်ထောင်မည့် လုပ်ငန်း အစီအစဉ်၊ CSR အစီအစဉ်၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုလွှာ တင်ပြထားပါသည်။ |
| ၁၇။ | စိစစ်တင်ပြချက် | - ကုမ္ပဏီမှ ပဲခူးတိုင်းဒေသကြီးအတွင်း သစ်တောဦးစီးဌာနမှ ခွင့်ပြုပေးနိုင်မည့် မြေနေရာတွင်လုပ်ဆောင်သွားမည် ဖြစ်ကြောင်းနှင့် သစ်တောစိုက်ခင်းထူထောင်ရေးလုပ်ငန်း စီမံချက်အား သစ်တောဦးစီးဌာန၏ လမ်းညွှန်ချက်များအတိုင်း ဆက်လက်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ သစ်စိုက်ခင်း ထူထောင်ရန်အတွက် ပဲခူးတိုင်း ဒေသကြီးတွင် ဧက (၅၀၀) မြေနေရာချထားပေးရန် သစ်တောဦးစီးဌာနသို့ လျှောက်ထားသည့်စာများ တင်ပြထားပါသည်။<br>- Exchange Rate အနေဖြင့် 1US$=1050ကျပ်ဖြင့် တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၂/ မ-၂၁၆ / ၂၀၁၅( ၅၈၆ )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၃၀ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့

တင်ပြသည့်အမှာစာ

အကြောင်းအရာ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် မဟာနဒီရေကြောင်း ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Maha Nadi Maritime Services Company Limited) မှ သစ်ခွဲသားနှင့် ကြမ်းခင်းပစ္စည်းအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၂)၊ ဦးဖိုးလှိုင်လမ်း၊ မြေကွက်အမှတ်-၈၃ ရှိ မြေအကျယ် ၁.၇၃၁ ဧက တွင် သစ်ခွဲသားနှင့် ကြမ်းခင်းပစ္စည်းအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်သက်လွင် (အဘ-ဦးမင်းလွင်) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင်ဦးမိုးလှိုင်+ဒေါ်မိမိခင် အမည်ပေါက် စက်မှုမြေဂရန်နှင့် တည်နေရာပြ မြေပုံကို တင်ပြထားပါသည်။ မြေအကျယ်အဝန်းမှာ ၁.၇၃၁ ဧက (၇၀၀၅.၁၁၄၇ စတုရန်းမီတာ) ဖြစ်ပါသည်။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၁၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ (အမေရိကန်ဒေါ်လာ ၀.၅၆၆ သန်း အပါအဝင်) ကျပ် ၁,၆၃၈.၉၇ သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော အမေရိကန်ဒေါ်လာ ၀.၀၂၃သန်း တန်ဖိုးရှိသော စက်ပစ္စည်းများကို ပြည်ပမှ ဝယ်ယူ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ရင်းနှီးမြှုပ်နှံမှုအား အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ပြည်တွင်း (ကျပ်သန်းပေါင်း) | ပြည်ပ (US$သန်းပေါင်း) | စုစုပေါင်း (ကျပ်သန်းပေါင်း) |
|---|---|---|---|---|
| (က) | ငွေပမာဏ | ၅၀၀.၀၀၀ | ၀.၅၀၀ | ၁၀၂၅.၀၀၀ |
| (ခ) | စက်ပစ္စည်း(ပြည်တွင်းဝယ်) | | ၀.၀၄၃ | ၄၅.၄၄၀ |
| (ဂ) | စက်ပစ္စည်း(ပြည်ပဝယ်) | | ၀.၀၂၃ | ၂၄.၅၄၅ |
| (ဃ) | အဆောက်အအုံ | ၂၈၈.၇၅၀ | | ၂၈၈.၇၅၀ |
| (င) | ရုံးလုပ်ငန်းသုံးပစ္စည်းများ | ၁၆.၈၈၅ | | ၁၆.၈၈၅ |
| (စ) | မော်တော်ယာဉ်(ပြည်တွင်းဝယ်) | ၂၃၈.၃၅၀ | | ၂၃၈.၃၅၀ |
| | စုစုပေါင်း | ၁၀၄၃.၉၈၅ | ၀.၅၆၆ | ၁၆၃၈.၉၇ |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၆၂ ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ ၈ ဦး စုစုပေါင်း ၇၀ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၃၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၅၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များ ပျဉ်းကတိုး၊ ကျွန်း၊ သစ်ယာ/အင်ကြင်း သစ်ခွဲသားများကို ပြည်တွင်း၌ ၂၀ % ရောင်းချမည်ဖြစ်ပြီး ပြည်ပသို့ ၈၀% တင်ပို့မည်ဖြစ်ပါသည်။ ကြမ်းခင်း(ပါကေး၊လျှာထိုး၊စကာတင်၊ဘီတင်)များကို ပြည်တွင်း၌၁၀၀%ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအစား ပြည်တွင်းရောင်း | ထုတ်လုပ်မှု အရေအတွက် (Hoppus Ton) | ရောင်းဈေးနှုန်း (ကျပ်/ Hoppus Ton) |
|---|---|---|---|
| (က) | ပျဉ်းကတိုး ( ၂၀ %) | | |
| | သစ်ခွဲသား | ၈၀၇ | ၁,၁၀၀,၀၀၀ |
| (ခ) | ကျွန်းသစ် ( ၂၀ %) | | |
| | သစ်ခွဲသား | ၂၁၅ | ၁,၇၀၀,၀၀၀ |
| (ဂ) | သစ်ယာ/အင်ကြင်း ( ၂၀ %) | | |
| | သစ်ခွဲသား | ၁၇၉ | ၈၀၀,၀၀၀ |
| (ဃ) | ကြမ်းခင်း (၁၀၀ %) | | |
| | ပါကေး၊လျှာထိုး၊စကာတင်၊ဘီတင် | ၆၀ | ၁,၅၀၀,၀၀၀ |

| စဉ် | ပစ္စည်းအမျိုးအစား ပြည်ပပို့ | ထုတ်လုပ်မှု အရေအတွက် (Hoppus Ton) | ရောင်းဈေးနှုန်း (US$/ Hoppus Ton) |
|---|---|---|---|
| (က) | ပျဉ်းကတိုး (၈၀ %) | | |
| | သစ်ခွဲသား | ၃,၂၂၇ | ၁,၃၀၀ |
| (ခ) | ကျွန်းသစ် (၈၀ %) | | |
| | သစ်ခွဲသား | ၈၆၁ | ၂,၂၀၀ |
| (ဂ) | သစ်ယာ/အင်ကြင်း (၈၀ %) | | |
| | သစ်ခွဲသား | ၇၁၇ | ၁,၃၀၀ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် (ဆဋ္ဌမမြောက်နှစ်) တွင် ရရှိမည့် ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဝင်ငွေ - ကျပ် ၈,၅၀၈.၁၃၅ သန်း

(ခ) အသုံးစရိတ် - ကျပ် ၈,၁၅၁.၄၇၂ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၃၅၆.၆၆၃ သန်း

၇။ နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်။

(က) ဝင်ငွေခွန် ကျပ် ၁၀၈.၈၉ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန်(သစ်ခွဲသား) ကျပ် ၃၄၉.၁၉ သန်း

(ဂ) ကုန်သွယ်လုပ်ငန်းခွန်(ကြမ်းခင်း) ကျပ် ၄.၅၀ သန်း

၈။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄) နှစ် နှင့် (၄) လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၉.၁၂ ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ လက်ရှိ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှု မရှိကြောင်း၊ မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် စီးပွားရေးဖွံ့ဖြိုးမှုအတွက် အထောက်အကူဖြစ်ပါကြောင်း၊ ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရလက်ခံနိုင်ခြင်းရှိကြောင်း၊ လုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** လုပ်ငန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများကို ရှောင်ရှား နိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်အသုံးပြုရန်၊ အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်သွားရန်၊ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း

(IEE) ဆောင်ရွက်ပြီးအစီရင်ခံစာတင်ပြရန်၊ လေ့လာဆန်းစစ်မှုများကို အခြေခံ၍ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကိုထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်း ပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး စီမံချက်(EMP) ကို ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာအရ အကောင်အထည် ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေး အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် အညီ စက်မှုမှတ်ပုံတင် လျှောက်ထား ဆောင်ရွက်ရန်လိုအပ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၀။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ ကမ္ဘောဇဘဏ်လီမိတက် (ဗဟန်းဘဏ်ခွဲ)တွင် မဟာနဒီရေကြောင်းဝန်ဆောင်မှုကုမ္ပဏီလီမိတက် အမည်ဖြင့် ၁၈-၅-၂၀၁၅နေ့ရှိ ငွေစာရင်းလက်ကျန် ကျပ် ၁၀,၀၀၀,၀၀၀ တင်ပြထားပါသည်။

၁၁။ ကုမ္ပဏီသည် လုပ်ငန်းခွင်သာယာရေး၊ ဝန်ထမ်းသက်သာချောင်ချိရေး၊ မီးဘေးလုံခြုံရေး စီမံချက်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်၊ လုပ်ငန်းသဘောသဘာဝ၊ လစာခွန်ပေးဆောင်မည်ဖြစ်ကြောင်းဝန်ခံကတိပြုလွှာ၊ သစ်ကုန်ကြမ်း ရယူမည့် အစီအစဉ်များ၊ ကုမ္ပဏီပိုင် သစ်စိုက်ခင်း ထူထောင်ရေးစီမံချက် အစီအစဉ်များအား တင်ပြထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထား လျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

၁၃။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဇွန်လ ၈ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၁၉/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၄။ စိစစ်တင်ပြချက်

(က) ကုမ္ပဏီမှ ပဲခူးတိုင်းဒေသကြီးအတွင်း သစ်တောဦးစီးဌာနမှ ခွင့်ပြုပေးနိုင်မည့် မြေနေရာတွင် လုပ်ဆောင်သွားမည်ဖြစ်ကြောင်းနှင့် သစ်တောစိုက်ခင်း ထူထောင်ရေး လုပ်ငန်း စီမံချက်အား သစ်တောဦးစီးဌာန၏ လမ်းညွှန်ချက်များ အတိုင်း ဆက်လက်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ သစ်စိုက်ခင်း ထူထောင်ရန်အတွက် ပဲခူးတိုင်းဒေသကြီး တွင် ဧက(၅၀၀)မြေနေရာချထားပေးရန် သစ်တောဦးစီးဌာနသို့ လျှောက်ထားသည့်စာ တင်ပြထားပါသည်။

(ခ) တည်ဆောက်မည့် စက်ရုံ၏ Layout Plan များကို တင်ပြထားပါသည်။

(ဂ) ပြည်ပမှဝယ်ယူမည့် စက်ပစ္စည်းစာရင်းများကို တင်ပြထားသော်လည်း နိုင်ငံခြား ငွေကြေးအထောက်အထား တင်ပြထားခြင်း မရှိပါ။

**ဆုံးဖြတ်ရန်အချက်**

၁၅။ မဟာနဒီရေကြောင်း ဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Maha Nadi Maritime Services Company Limited) မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၂)၊ ဦးဖိုးလှိုင်လမ်း၊ မြေကွက်အမှတ်-၈၃ ရှိ မြေအကျယ် ၁.၇၃၁ ဧက တွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်ခွဲသားနှင့် ကြမ်းခင်းပစ္စည်းအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ/မျှောစာတွဲ

မဟာနဒီရေကြောင်း ဝန်ဆောင်မှုကုမ္ပဏီလီမိတက် ၏ ဒါရိုက်တာနှင့် အစုရှင်များ၏

နေရပ်လိပ်စာ၏ စာရင်း

| စဉ် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ရာထူး | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁ | ဦးဟင်နရီခင်မောင်<br>၁၂/ တမန(နိုင်) ၀၈၆၇၃၁ | မန်နေဂျင်းဒါရိုက်တာ | အမှတ်-၃(ဘီ)၊ ကုက္ကိုင်းရေကူးကန်လမ်း၊ ဆရာစံမြောက်အနောက်ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| ၂ | ဒေါ်ဖြူဖြူဇင်<br>၁၂/ ဒဂန(နိုင်) ၀၂၃၀၈၅ | ဒါရိုက်တာ | အမှတ်-၃(ဘီ)၊ ကုက္ကိုင်းရေကူးကန်လမ်း၊ ဆရာစံမြောက်အနောက်ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| ၃ | ဒေါ်မြင့်မြင့်လှိုင်<br>၉/ မထလ(နိုင်) ၀၄၃၁၉၆ | ဒါရိုက်တာ | အမှတ်-၃(ဘီ)၊ ကုက္ကိုင်းရေကူးကန်လမ်း၊ ဆရာစံမြောက်အနောက်ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| ၄ | ဒေါ်ခင်စန်းသီ<br>၉/ မထလ(နိုင်) ၀၄၃၂၇၅ | ဒါရိုက်တာ | အမှတ်-၁၆၁(အီး)၊ ကျိုက္ကစံလမ်း၊ နတ်မောက်ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |
| ၅ | ဦးကျော်သက်လွင်<br>၁၂/ ဗတထ(နိုင်) ၀၃၂၉၀၂ | ဒါရိုက်တာ | အမှတ်-၁၀၂၊ ပထမထပ်၊ ၄၂လမ်း၊ ၈ ရပ်ကွက်၊ ဗိုလ်တစ်ထောင်မြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် — ၀၉-၅၀၈၈၉၇၆

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး — ဦးကျော်သက်လွင်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ — သစ်ခွဲသားနှင့် ကြမ်းခင်းပစ္စည်းအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ — ၆၄၆/၂၀၁၂-၂၀၁၃ (၂၄-၅-၂၀၁၂)

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ — ၂၄-၅-၂၀၁၂ မှ ၂၃-၅-၂၀၁၇

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ်

နောက်ဆက်တွဲ-က



မြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ် ၁၃ / ၆ - ၃ (၄၃) / လုံခြုံ
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇွန် လ ၂၃ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀. ၆. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရကာ - ၂/ မ-၂၁၆ / ၂၀၁၅ (၄၄၂)

၁။ မဟာနဒီရေကြောင်း ဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Maha Nadi Maritime Services Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၂)၊ (၈၉)ရပ်ကွက်၊ ဦးဖိုးလှိုင်လမ်း၊ မြေကွက်အမှတ် (၈၃)ရှိ မြေအကျယ် ၁. ၇၃၁ ဧက(၇၀၀၅. ၁၁၄၇ စတုရန်းမီတာ)တွင် သစ်ခွဲသား အမျိုးမျိုးနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၇၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၂)၊ (၈၉)ရပ်ကွက်၊ ဦးဖိုးလှိုင်လမ်း၊ မြေကွက်အမှတ် (၈၃)ရှိ မြေအကျယ် ၁. ၇၃၁ ဧက(၇၀၀၅. ၁၁၄၇ စတုရန်းမီတာ)အား မြေလွတ်ဧရိယာအတွက် တစ်စတုရန်းမီတာလျှင် ကျပ်(၃၀၀၀)နှုန်းဖြင့် (၆၁၆၀. ၅၃၅ စတုရန်းမီတာ)အတွက် တစ်နှစ်ငှားရမ်းခ ကျပ် ၁၈၄၈၁၆၀၅/-၊ အဆောက်အဦပါ မြေဧရိယာအတွက် တစ်စတုရန်းမီတာလျှင် ကျပ်(၃၅၀၀)နှုန်းဖြင့် (၈၄၄. ၅၇၉၇ စတုရန်းမီတာ အတွက်) တစ်နှစ်ငှားရမ်းခ ကျပ် ၂၀၄၃၇၇၆၃၄/-နှုန်းဖြင့် ကနဦး(၁၀)နှစ်၊ (၅)နှစ်သက်တမ်းတိုး (၂)ကြိမ် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပြီး မီးဘေးလုံခြုံရေး စနစ်တကျ စီမံဆောင်ရွက်ပါမည်ဟု ကတိပြုတင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၁၈. ၆. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၀/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၁)အရ မဟာနဒီရေကြောင်း ဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Maha Nadi Martime Services Company Limited) ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မဟာနဒီရေလှိုင်း ဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Maha Nadi Maritime Services Company Limited)
လက်ခံစာတွဲ
မျှောစာတွဲ

2015(Cabinet)30..(7)

နောက်ဆက်တွဲ- ခ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၁၁(ဃ)(၆)/(၁၀၈၄/၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၅ ရက်

NPT-3547
၂၉.၆.15

သို့

ဂဏ ၄၅/၅/၆

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁ - ၆ - ၂၀၁၅ ရက်စွဲပါစာ အမှတ်၊ ရက - ၂ / မ - ၂၁၆ / ၂၀၁၅ ( ၄၄၃ )

၁။ မဟာနဒီရေကြောင်းဝန်ဆောင်မှုကုမ္ပဏီလီမိတက် ( Maha Nadi Maritime Services Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး ၊ ဒဂုံမြို့သစ် (ဆိပ်ကမ်း) မြို့နယ် ၊ စက်မှုဇုန် (၂) ၊ (၈၉) ရပ်ကွက် ၊ ဦးဖိုးလှိုင်လမ်း ၊ မြေကွက်အမှတ်- (၈၃) ရှိ မြေအကျယ် (၁.၇၃၁)ဧက (၇၀၀၅.၁၁၄၇ စတုရန်းမီတာ ) တွင် သစ်ခွဲသားအမျိုးမျိုး နှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပေးပို့လာသော အဆိုပြုလွှာအား စိစစ်ရာတွင် သစ်ခွဲသားအမျိုးမျိုး နှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းတွင် ကုန်ကြမ်းပစ္စည်းများ သိုလှောင်ခြင်း ၊ သုံးစွဲခြင်း ၊ လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်း နှင့် စွန့်ပစ်အရည်များ ၊ သစ်အမှုန်အမွှားများ ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်တွင် ရေ ၊ လေ ၊ မြေ ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း ၊ စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှု နှင့် စက်ရုံဧရိယာအနီး ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင် ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ ကုမ္ပဏီမှ သစ်အချောစက် တည်ထောင်ခြင်းသည် သစ်တောဥပဒေ ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ စီစစ်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှ ကျင်းပပြုလုပ်မည့် ပြည်တွင်း/ ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူနိုင်ပါကြောင်း နှင့် ရေရှည်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိက သစ်တောစိုက်ခင်းများ စိုက်ပျိုးတည်ထောင်ခွင့် လျှောက်ထားဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်၍ Maha Nadi Maritime Services Co., Ltd. မှ သစ်ခွဲသားအမျိုးမျိုး နှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စ နှင့် ပတ်သက်၍ တစ်ဘက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေး နှင့် ကျန်းမာရေးထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းစနစ်အသုံးပြုခြင်း ၊ အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေး ဆိုင်ရာတာဝန်ခံမှု ( CSR ) အား အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လုပ်ငန်းစီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး ( သို့မဟုတ် ) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း ( Initial Environmental Examination ) ဆောင်ရွက်ပြီး IEE အစီရင်ခံစာတင်ပြရန်၊

(ဃ) လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေ စသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန် နှင့် အစီရင်ခံစာအရ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ နှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

နောက်ဆက်တွဲ-ဂ



IC, 43/2516

NPT 3422
24.6.15

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၈၉၀)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၂၂ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀.၆. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ မ- ၂၁၆/ ၂၀၁၅ (၄၄၄)

၁။ မဟာနဒီရေကြောင်းဝန်ဆောင်မှုကုမ္ပဏီလီမိတက်သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(ဆိပ်ကမ်း)မြို့နယ်၊ စက်မှုဇုန်(၂)၊ ၈၉ ရပ်ကွက်၊ ဦးဖိုးလှိုင်လမ်း၊ မြေကွက်အမှတ်(၈၃)တွင် သစ်ခွဲသားအမျိုးမျိုးနှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး သစ်ခွဲသားအမျိုးမျိုးနှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ မဟာနဒီရေကြောင်းဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှ သစ်ခွဲသားအမျိုးမျိုးနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်

ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန